



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၂၂...... / ၂၀၀၉ ။ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာ လ ၁၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ..... ဦးထွန်းမြင့်နိုင်

(ခ) အဘအမည် ..... ဦးလော်စစ်ဟန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ..... ၁၂ /မရက (နိုင်) ၁၀၁၆၃၅

(ဃ) နေရပ်လိပ်စာ ..... အမှတ် (၁၂၄)၊ပဏ္ဍိတလမ်းနှင့် အင်းစိန်လမ်းထောင့်၊ (၈/၉)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ..... အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် (Asia World Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ..... BOT စနစ်ဖြင့် လမ်းပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ..... ပုသိမ်–ငွေဆောင်လမ်းအပိုင်း (၂၉မိုင်၊ ၅ဖာလုံ)

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ..... ၇၀၉၃.၁၁ (သန်း) (အမေရိကန်ဒေါ်လာ ၂.၇၇၂ သန်းအပါအဝင် စုစုပေါင်းကျပ်သန်းခုနစ်ထောင့်ကိုးဆယ့်သုံးနှင့်တစ်သိန်း၊တစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## အမိန့်ကြော်ငြာစာအမှတ်၊ ၃၁ / ၂၀၀၉ (မနသ)

နေပြည်တော်၊ ၁၃၇၁ ခုနှစ် ၊ နတ်တော်လပြည့်ကျော် ၁၄ ရက်

(၂၀၀၉ ခုနှစ် ၊ ဒီဇင်ဘာ လ ၁၄ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် (Asia World Co., Ltd.) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းပိုင် ပုသိမ် - ငွေဆောင် လမ်းအပိုင်း { မိုင်တိုင် ၀/၀ မှ မိုင်တိုင် ၂၉/၅ အထိ ၂၉ မိုင်၊ ၅ ဖာလုံ } အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၂၉-၉-၂၀၀၉) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၃၅/၂၀၀၉)အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၃၀-၁၀-၂၀၀၉) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၃၇/၂၀၀၉) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက် အရ (၃-၁၂-၂၀၀၉) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ ၏ (၄၅/၂၀၀၉)အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထား သော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် (Asia World Co., Ltd.) အား ပုသိမ် - ငွေဆောင် လမ်းအပိုင်း {၂၉ မိုင်၊ ၅ ဖာလုံ}အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၇၂၂/၂၀၀၉ ကို ထုတ်ပေးလိုက် သည်။

၂။ အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်(Asia World Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃ မှ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားလိုပါက ဤကော်မရှင်သို့ လျှောက်ထားနိုင်သည်။

၃။ အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် (Asia World Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက် အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် (Asia World Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် (Asia World Co., Ltd.) သည် ပုသိမ် - ငွေဆောင် လမ်းအပိုင်းအား BOT စနစ်ဖြင့် ဆောင်ရွက်ရာတွင် ဆောက်လုပ်ရေး ဝန်ကြီး ဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းနှင့် အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် (Asia World Co., Ltd.) တို့ ချုပ်ဆိုမည့် ပုသိမ် - ငွေဆောင် လမ်းအပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးပြီးသည့် အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် (Asia World Co., Ltd.)၏ ပုသိမ် - ငွေဆောင် လမ်းအပိုင်း အား BOT စနစ်ဖြင့်ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း သက်တမ်းမှာ နှစ်(၄၀) ဖြစ်သည်။ လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ သို့မဟုတ် လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေး သည့်နေ့ ထိုနှစ်ရပ်အနက် စောရာနေ့ရက် ကာလမှ စတင်သတ်မှတ်ရမည် ။

၈။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

| | | |
|---|---|---|
| (က) | ပထမ (၃)နှစ် အတွက် | - ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - ၅% ပေးသွင်းရန် |
| (ဂ) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - ၁၀% ပေးသွင်းရန် |
| (ဃ) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် | - ၁၅% ပေးသွင်းရန် |
| (င) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် | - ၂၀% ပေးသွင်းရန် |

၉။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေ အထား အတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်း ပေးရမည် ။

၁၀။ အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် (Asia World Co., Ltd.) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် (Asia World Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် (Asia World Co., Ltd.) သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ်(ဧပြီ/အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် (Asia World Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများ မှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာမှုမရှိကြောင်းစစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကိုပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၅။ အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် (Asia World Co., Ltd.)သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက် တို့ကို ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်း နှင့်

လျှို့ဝှက်

၄

ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(ဂ) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ-၁၀၄၅/၂၀၀၉(၂၁၇၄၅ )

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာ လ ၁၄ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး ၊ ပုသိမ်မြို့။
၅။ စာရင်းစစ်ချုပ်ရုံး။
၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၈။ အလုပ်သမား ဝန်ကြီးဌာန။
၉။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန။
၁၂။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၅။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၆။ အုပ်ချုပ်မှု ဒါရိုက်တာ၊ အေးရှားဝါး (လ်) ကုမ္ပဏီလီမိတက် (Asia World Co., Ltd.)

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရက- ၆ (ခ) /မ- လမ်း / ၂၀၀၉ ( ၂၀၄၄၉ )၊

**BOT စနစ်ဖြင့် လမ်းများ ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက် ရန် အတွက် အဆိုပြုချက်(၄)ခု တင်ပြခြင်းကိစ္စ။**

**အကျဉ်းချုပ်** ။ ။ အောက်ပါ လမ်းအပိုင်း(၄)ပိုင်းတို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင် ခွင့်ပြုမိန့်ရရှိရေးအတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ရန်ကုန် - ပုသိမ် | ၁၁၃ မိုင် | ကျပ် ၂၉၅၈၉.၁၁ သန်း (US$ ၁၁.၁၈၅ သန်း အပါအဝင်) | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| ၂။ | ပုသိမ်-ငွေဆောင် | ၂၉ မိုင်၊ ၅ ဖာလုံ | ကျပ် ၇၀၉၃.၁၁ သန်း (US$ ၂.၇၇၂ သန်း အပါအဝင်) | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| ၃။ | မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင် | ၉ မိုင်၊ ၃ ဖာလုံ | ကျပ် ၂၇၆၀.၀၀ သန်း | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| ၄။ | မိတ္ထီလာ - တောင်ကြီး (ပျော်ဘွယ်- ဘုရားငါးဆူ၊ သာစည် - သပြေဝ လမ်းပိုင်းများ အပါအဝင်) | ၁၄၀ မိုင်၊ ၅ ဖာလုံ | ကျပ် ၃၀၆၅၈.၉၉ သန်း (US$ ၅.၃၀ သန်း အပါအဝင်) | တောင်ပေါ်ဒေသလမ်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

အထက်ပါလမ်းအပိုင်း (၄)ပိုင်းနှင့်စပ်လျဉ်း၍ ကုန်သွယ်မှုမူဝါဒကောင်စီ၏(၃၇/၂၀၀၉) (၃၀-၁၀-၂၀၀၉) အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူသဖြင့် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။

အဆိုပြု လမ်းအပိုင်းရှိ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းမှ တည်ဆောက်ထားသည့် (၁၈၀)ပေအထက် တံတားများအတွက် တံတားအသုံးပြုခကောက်ခံမှုများကို ကုမ္ပဏီများသို့ လေလံစနစ်ဖြင့် ဆောင်ရွက်စေပြီး၊ ကုမ္ပဏီမှ တည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတားများ အတွက် တံတားအသုံးပြုခများကို ကုမ္ပဏီမှ ကောက်ခံခြင်းစနစ်ဖြင့် ဆောင်ရွက်ပါသည်။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တည်ဆောက်ထားသည့် (၁၈၀)ပေ အထက် တံတားများ မှာ ရန်ကုန် - ပုသိမ်လမ်းတွင် (၁၆)စင်း၊ မိတ္ထီလာ- တောင်ကြီးလမ်းတွင် (၄)စင်း ရှိပြီး ပုသိမ် - ငွေဆောင် လမ်းအပိုင်း တွင် အေးရှားဝါး(လ်) ကုမ္ပဏီမှ တည်ဆောက်ထားသည့် တံတား (၂)စင်း ရှိပါသည်။

လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ) မှာ (၃)နှစ်ဖြစ်ပါသည်။ လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀)ဖြစ်ပြီး လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ်အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက် ကာလမှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

အဆိုပြု ကုမ္ပဏီများမှ အောက်ပါ လမ်းအသုံးပြုခနှုန်းများအတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း<br>တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

လမ်း၊ တံတား အသုံးပြုခရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရ မည် ဖြစ်ပါသည်။

(၁) ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------၂၀%ပေးသွင်းရန်

ယခုတင်ပြသည့် လမ်းအပိုင်း (၄)ပိုင်းအား လမ်းဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက်ခွင့်ပြုသည့် နေ့မှာ (၁-၄-၂၀၀၈) ဖြစ်ပါသည်။

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာသည့် အောက်ပါလမ်းအပိုင်း (၄)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

| | | | |
|---|---|---|---|
| (က) | ရန်ကုန် - ပုသိမ် လမ်းအပိုင်း | (၁၁၃ မိုင်) | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| (ခ) | ပုသိမ် - ငွေဆောင် လမ်းအပိုင်း | (၂၉ မိုင်၊ ၅ ဖာလုံ) | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| (ဂ) | မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင်လမ်းအပိုင်း | (၉ မိုင်၊ ၃ ဖာလုံ) | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| (ဃ) | မိတ္ထီလာ - တောင်ကြီး လမ်းအပိုင်း (ပျော်ဘွယ်- ဘုရားငါးဆူ၊ သာစည် - သပြေဝလမ်း ပိုင်းများ အပါအဝင်) | (၁၄၀ မိုင်၊၅ ဖာလုံ) | တောင်ပေါ်ဒေသလမ်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

(ကျော်ဒွန်း)
ညွှန်ကြားရေးမှူး

နောက်ဆက်တွဲ (ဂ)

**ရန်ကုန်-ပုသိမ် လမ်းအပိုင်း (အေးရှားဝါးလ်ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးထွန်းမြင့်နိုင်(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ရန်ကုန်-ပုသိမ် လမ်းအပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံ ခြင်းလုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်) | - ရန်ကုန်-ပုသိမ် (၁၁၃ မိုင် )<br>- ရန်ကုန်မှ မိုင်တိုင်အမှတ် ၀/၀ မှ ၈၀/၀ အထိ (၈၀)မိုင်<br>- ပုသိမ် မှ မိုင်တိုင်အမှတ် ၀/၂ မှ ၃၃/၂ အထိ (၃၃)မိုင် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများတန်ဖိုး<br>- ကုန်ကြမ်းပစ္စည်းများတန်ဖိုး | - ကျပ် ၂၉၅၈၉.၁၁ သန်း (US$ ၁၁.၁၈၅ သန်းအပါအဝင်)<br>၂၉၅၂၂.၀၀ (ချေးငွေ ကျပ်သန်း ၅၀၀၀အပါအဝင်)<br>၁၁.၈၉ (US$ ၁.၉၈၂ သန်း)<br>၅၅.၂၂ (US$ ၉.၂၀၃ သန်း)<br>- ကျပ်(၅၀၀၀.၀၀)သန်းကို တစ်နှစ်လျှင် ၁၇% အတိုးဖြင့် နိုင်ငံတော်မှ ချေးယူပါသည်။ |
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | အသွား/အပြန် ခရီးအတွက်<br>- မိုင်တိုင် ၇/၀ (လှိုင်သာယာဂိတ်)<br>- မိုင်တိုင် ၄၃/၂ (ဗိုလ်မြတ်ထွန်းဂိတ်)<br>- မိုင်တိုင် ၇၉/၆-၇ (ကန်ကလေးဂိတ် )<br>- မိုင်တိုင် ၅/၄ (ပုသိမ်ဂိတ်) |
| ၇။ | ဝင်ငွေ | - ကျပ် ၂၀၉၀. ၃၅ သန်း |
| ၈။ | အသားတင်အမြတ် | ကျပ် ၁၇၅.၈၈ သန်း |
| ၉။ | အရင်းကြေကာလ | (၃၃) နှစ် နှင့် (၉)လ |

| | | |
|---|---|---|
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | ၀.၈၈ % |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၇၅.၃၈ သန်း<br>ကျပ် ၁၀၄.၅၂ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | (၃၈၁) ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |

နောက်ဆက်တွဲ (ဃ)

## ပုသိမ်-ငွေဆောင်လမ်းအပိုင်း (အေးရှားဝါးလ်ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးထွန်းမြင့်နိုင်(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ပုသိမ် - ငွေဆောင် လမ်းအပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်) | - ပုသိမ် - ငွေဆောင် (၂၉ မိုင် ၅ ဖာလုံ)<br>(မိုင်တိုင်အမှတ် ၀/၀ မှ ၂၉/၅ အထိ ) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- ကုန်ကြမ်းပစ္စည်းများတန်ဖိုး | - ကျပ် ၇၀၉၃.၁၁ သန်း (US$ ၂.၇၇၂ သန်း အပါအဝင်)<br>၇၀၇၆.၄၇ (ချေးငွေကျပ်သန်း၅၀၀ အပါအဝင်)<br>၅.၈၆ (US$ ၀.၉၇၇ သန်း)<br>၁၀.၇၈ (US$ ၁.၇၉၅ သန်း)<br>- ကျပ်(၅၀၀.၀၀)သန်းကို တစ်နှစ်လျှင် ၁၇% အတိုးဖြင့် (၂၀၀၁) ခုနှစ်မှ စတင်၍ မြဝတီဘဏ်မှ ချေးယူပါသည်။ |
| ၆။ | လမ်းတံတား အသုံးပြုခ<br>ကောက်ခံမည့် ဂိတ်တည်နေရာ | - မိုင်တိုင် ၁/၇<br>(အသွား/အပြန် ခရီးအတွက်) |
| ၇။ | ဝင်ငွေ<br>- လမ်းဝင်ငွေ<br>- တံတားဝင်ငွေ | <br>- ကျပ် ၂၀၅.၀၂ သန်း<br>- ကျပ် ၃၇.၈၁ သန်း |
| ၈။ | အသားတင်အမြတ် | ကျပ် ၁၄.၅၀ သန်း |
| ၉။ | အရင်းကြေကာလ | (၃၃) နှစ် |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး<br>အမြတ် ပြန်ပေါ်နှုန်း (IRR) | ၁.၀၇ % |

| | | |
|---|---|---|
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး<br>အမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၆.၂၀ သန်း<br>ကျပ် ၁၂.၁၄ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | ( ၃၃၈ ) ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |

နောက်ဆက်တွဲ (င)

**မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင် လမ်းအပိုင်း( အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်) အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးထွန်းမြင့်နိုင် (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | - မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင် လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့်လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင် (၉ မိုင် ၃ဖာလုံ) ( မိုင်တိုင် အမှတ် ၀/၀ မှ ၉/၃ အထိ) |
| ၅။ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ | - ကျပ် ၂၇၆၀.၀၀ သန်း |
| ၆။ | လမ်းတံတားအသုံးပြုခ ကောက်ခံမည့်ဂိတ်တည်နေရာ | - မိုင်တိုင် (၇/ ၀) (အသွား နှင့် အပြန်ခရီးအတွက်) |
| ၇။ | ဝင်ငွေ | - ကျပ် ၁၅၈.၆၇ သန်း |
| ၈။ | အသားတင်အမြတ် | - ကျပ် ၁၃.၁၆ သန်း |
| ၉။ | အရင်းကြေကာလ | - (၃၃)နှစ်၊ (၈)လ |
| ၁၀။ | အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - ၀.၉၅ % |
| ၁၁။ | နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခရငွေ | <br><br>- ကျပ် ၅.၆၄ သန်း<br>- ကျပ် ၇.၉၃ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | - (၃၂၅) ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ် ချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ |

နောက်ဆက်တွဲ (စ)

**မိတ္ထီလာ-တောင်ကြီး လမ်းအပိုင်း (တောင်ပေါ်ဒေသလမ်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - တောင်ပေါ်ဒေသလမ်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးနေဝင်းကျော်(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မိတ္ထီလာ-တောင်ကြီး လမ်းအပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - မိတ္ထီလာ-တောင်ကြီး (၁၄၀ မိုင် ၅ ဖာလုံ) (ပျော်ဘွယ်-ဘုရားငါးဆူ၊ သာစည်- သပြေဝ လမ်းပိုင်းများ အပါဝင်)<br>- မိတ္ထီလာ-တောင်ကြီးအပိုင်း မိုင်တိုင်အမှတ် ဝ/၆ မှ ၁၁၆/ဝ အထိ (၁၁၅ မိုင် ၂ ဖာလုံ )<br>- ပျော်ဘွယ်- ဘုရားငါးဆူအပိုင်း မိုင်တိုင်အမှတ် ဝ/ဝ မှ ၁၆/၁ အထိ (၁၆ မိုင် ၁ ဖာလုံ)<br>- သာစည်-သပြေဝအပိုင်း မိုင်တိုင်အမှတ် ဝ/ဝ မှ ၉/၂ အထိ (၉ မိုင် ၂ ဖာလုံ ) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- ကုန်ကြမ်းပစ္စည်းများတန်ဖိုး<br>- အဆောက်အဦတန်ဖိုး<br>- ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | - ကျပ် ၃ဝ၆၅၈.၉၉ သန်း (US$ ၅.၃ဝ သန်းအပါအဝင်)<br>၃ဝ၅ဝ၄.၂ဝ<br>၁၆.၁၉ (US$ ၂.၇ဝ သန်း)<br>၁၅.၆ဝ (US$ ၂.၆ဝ သန်း)<br>၁ဝ၅.ဝဝ<br>၁၈.ဝဝ |

| | | |
|---|---|---|
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွားခရီး (မိတ္ထီလာ မှ တောင်ကြီး)<br>မိတ္ထီလာဂိတ် မိုင်တိုင် ၂/၅-၆ ကြား<br>ဘုရားငါးဆူဂိတ် မိုင်တိုင် ၂၇/၀-၁ ကြား<br>ကလောဂိတ် မိုင်တိုင် ၇၄ နှင့် ၇၅ ကြား<br>ပျော်ဘွယ်ဂိတ် မိုင်တိုင် ၁/၂-၃ ကြား<br>သာစည်ဂိတ် မိုင်တိုင် ၁/၀-၃ ကြား<br>- အပြန်ခရီး (တောင်ကြီးမှ မိတ္ထီလာ)<br>အောင်သပြေဂိတ် မိုင်တိုင် ၁၀၅ နှင့် ၁၁၆ ကြား<br>ကလောဂိတ် မိုင်တိုင် ၇၄ နှင့် ၇၅ ကြား<br>ဘုရားငါးဆူဂိတ် မိုင်တိုင် ၂၇/၀-၁ ကြား |
| ၇။ | ဝင်ငွေ | ကျပ် ၂၄၉၁. ၂၇ သန်း |
| ၈။ | အသားတင်အမြတ် | ကျပ် ၆၈၃.၂၇ သန်း |
| ၉။ | အရင်းကြေကာလ | (၂၀) နှစ် |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | ၄.၈၀ % |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခရငွေ | <br><br>ကျပ် ၂၉၂. ၈၃ သန်း<br>ကျပ် ၁၂၄.၅၆ သန်း |
| ၁၂။ | လုပ်သားအင်အား | ပြည်တွင်း ၃၀၀ ဦး<br>ပြည်ပ ၅ ဦး (အချိန်ပိုင်း)<br>၃၀၅ ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ် ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(ခ)/မ - လမ်း/ ၂၀၀၉(၂၀၄၄၉ )၊
ရက်စွဲ၊ ၂၀၀၉ ခုနှစ် ၊ နိုဝင်ဘာလ ၁၉ ရက်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ ။ BOT စနစ်ဖြင့် လမ်းများ ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်း ကို ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ရန် အတွက် အဆိုပြုချက်(၄)ခု တင်ပြခြင်းကိစ္စ။

၁။ အောက်ပါ လမ်းအပိုင်း(၄)ပိုင်းတို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင် ခွင့်ပြုမိန့်ရရှိရေးအတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ရန်ကုန် - ပုသိမ် | ၁၁၃ မိုင် | ကျပ် ၂၉၅၈၉.၁၁ သန်း (US$ ၁၁.၁၈၅ သန်း အပါအဝင်) | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် |
| ၂။ | ပုသိမ်-ငွေဆောင် | ၂၉ မိုင်၊ ၅ ဖာလုံ | ကျပ် ၇၀၉၃.၁၁ သန်း (US$ ၂.၇၇၂ သန်း အပါအဝင်) | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် |
| ၃။ | မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင် | ၉ မိုင်၊ ၃ ဖာလုံ | ကျပ် ၂၇၆၀.၀၀ သန်း | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် |
| ၄။ | မိတ္ထီလာ - တောင်ကြီး (ပျော်ဘွယ်- ဘုရားငါးဆူ၊ သာစည် - သပြေဝ လမ်းပိုင်းများ အပါအဝင်) | ၁၄၀ မိုင်၊ ၅ ဖာလုံ | ကျပ် ၃၀၆၅၈.၉၉ သန်း (US$ ၅.၃၀ သန်း အပါအဝင်) | တောင်ပေါ်ဒေသလမ်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

၂။ အထက်ပါ လမ်းအပိုင်း (၄)ခုအား (၃၀-၁၀-၂၀၀၉) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၃၇/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ရာ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ နောက်ဆက်တွဲ (က)

၃။ ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၃၇/ ၂၀၀၉) အစည်းအဝေးမှ သဘောတူသဖြင့် အဆိုပါ လမ်းအပိုင်း (၄)ခု၏ လုပ်ငန်းအဆိုပြုလွှာများအား အစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက် တင်ပြပေးပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တင်ပြလာပါသဖြင့် ဆက်လက် တင်ပြခြင်း ဖြစ်ပါသည်။

၄။ အဆိုပြု လမ်းအပိုင်းရှိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတားများအတွက် တံတားအသုံးပြုခ ကောက်ခံမှုများကို ကုမ္ပဏီ များ သို့ လေလံစနစ်ဖြင့် ဆောင်ရွက်စေပြီး၊ ကုမ္ပဏီမှ တည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတားများအတွက် တံတားအသုံးပြုခများကို ကုမ္ပဏီမှ ကောက်ခံခြင်းစနစ်ဖြင့် ဆောင်ရွက်ပါ သည်။ လမ်းအပိုင်းအလိုက် (၁၈၀) ပေ အထက် တံတားကြီးများ တည်ဆောက်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။ အသေးစိတ်စာရင်းကို နောက်ဆက်တွဲ(ခ) ဖြင့် တင်ပြအပ်ပါသည်။

**(၁၈၀) ပေ အထက် တံတားကြီးများ**

| စဥ် | ကုမ္ပဏီ အမည် | လမ်းအပိုင်း | ဌာနမှ တည်ဆောက်သည့် တံတား | ကုမ္ပဏီမှ တည်ဆောက်သည့် တံတား |
|---|---|---|---|---|
| ၁။ | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် | ရန်ကုန် - ပုသိမ် | ၁၆ | - |
| ၂။ | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် | ပုသိမ်-ငွေဆောင် | - | ၂ |
| ၃။ | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် | မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင် | - | - |
| ၄။ | တောင်ပေါ်ဒေသလမ်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မိတ္ထီလာ - တောင်ကြီး | ၄ | - |

၅။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း) များပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃) နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး လမ်း ဖောက်လုပ်သည့် လုပ်ငန်း ကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ ရက် ကာလ မှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခနှုန်းများ အတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) တံတားအသုံးပြုခများကို ပေ (၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေ ဖြင့် တည်ဆောက်သော တံတားများ အတွက် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ညှိနှိုင်း သဘောတူညီသည့် နှုန်းထားဖြင့် လည်းကောင်း ကောက်ခံရမည် ဖြစ်ပါသည်။

(င) လမ်း၊တံတားအသုံးပြုခရငွေအပေါ် ခွင့်ပြုကာလအပိုင်းအခြားအလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။

(၁) ပထမ (၃)နှစ် အတွက် ----- ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------ ၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------ ၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------ ၂၀%ပေးသွင်းရန်

(စ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက် အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကိုထားရှိပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည် အထိ ဖြစ်သည်။ လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ်ကာလအတွင်း လုပ်ငန်းကို ပြီးစီး အောင်ဆောင်ရွက် ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူ ရမည်ဖြစ်သည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသို့ ပြန်လည် ထုတ်ပေးရမည်။

(ဆ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရပါ။

(ဇ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦ များကို ဆောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်း ပေးရမည် ဖြစ်ပါသည်။

၆။ လမ်းအပိုင်းအလိုက် လမ်းဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက်ခွင့်ပြုသည့် နေ့ရက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဥ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | လုပ်ငန်းစတင်ဆောင်ရွက်ခွင့်ပြုသည့်နေ့ |
|---|---|---|---|
| ၁။ | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် | ရန်ကုန် - ပုသိမ် | ၁-၄-၂၀၀၈ |
| ၂။ | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် | ပုသိမ် - ငွေဆောင် | ၁-၄-၂၀၀၈ |
| ၃။ | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် | မြစ်ငယ် - ထုံးဘို - မြင်ဦးလွင် | ၁-၄-၂၀၀၈ |
| ၄။ | တောင်ပေါ်ဒေသလမ်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မိတ္ထီလာ - တောင်ကြီး | ၁-၄-၂၀၀၈ |

၇။ အဆိုပြု လမ်းအပိုင်း(၄)ပိုင်းအား ကုမ္ပဏီ(၂)ခုတို့မှ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းနှင့် စပ်လျဥ်းသည့် စီးပွားရေးဆိုင်ရာ အသေးစိတ် အချက်အလက်များကို နောက်ဆက်တွဲ (ဂ)မှ (စ) အထိ လည်းကောင်း၊ လုပ်ငန်း အဆိုပြုချက်များကို နောက်ဆက်တွဲ (ဆ) မှ (ည) အထိ လည်းကောင်း ပူးတွဲ တင်ပြအပ်ပါသည်။

၈။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၉။ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာသည့် အောက်ပါလမ်းအပိုင်း (၄)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

| | | | |
|---|---|---|---|
| (က) | ရန်ကုန် - ပုသိမ် လမ်းအပိုင်း | (၁၁၃ မိုင်) | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် |
| (ခ) | ပုသိမ် - ငွေဆောင် လမ်းအပိုင်း | (၂၉ မိုင်၊ ၅ ဖာလုံ) | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် |
| (ဂ) | မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင်လမ်းအပိုင်း | (၉ မိုင်၊ ၃ ဖာလုံ) | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် |
| (ဃ) | မိတ္ထီလာ - တောင်ကြီး လမ်းအပိုင်း (ပျော်ဘွယ်- ဘုရားငါးဆူ၊ သာစည် - သပြေဝလမ်းပိုင်းများ အပါအဝင်) | (၁၄၀ မိုင်၊၅ ဖာလုံ) | တောင်ပေါ်ဒေသလမ်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၀။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။



နောက်ဆက်တွဲ (က)

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ အောက်တိုဘာလ(၃၀)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှု မူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၂-၄ | ၆၉၃ | ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြလာသည့် အောက်ပါလမ်းအပိုင်း (၄)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုကြောင်း ဆုံးဖြတ်ပါသည်။<br>(က) ရန်ကုန် - ပုသိမ် လမ်းအပိုင်း (၁၁၃မိုင်) အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်<br>(ခ) ပုသိမ် - ငွေဆောင် လမ်းအပိုင်း (၂၉ မိုင်၊ ၅ ဖာလုံ) အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်<br>(ဂ) မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင်လမ်းအပိုင်း (၉ မိုင်၊ ၃ ဖာလုံ) အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်<br>(ဃ) မိတ္ထီလာ - တောင်ကြီး (၁၄၀ မိုင်၊၅ ဖာလုံ) လမ်းအပိုင်း (ပျော်ဘွယ်- ဘုရားငါးဆူ၊ သာစည် - သပြေဝလမ်း ပိုင်းများ အပါအဝင်) တောင်ပေါ်ဒေသလမ်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။<br>ဆောက်လုပ်ရေး ဝန်ကြီးဌာန။ |






WWM/TTN 31-10-2009

နောက်ဆက်တွဲ(ခ)

(၁၈၀)ပေအထက် တံတားကြီးများအသုံးပြုခကောက်ခံမှု

| စဉ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှတည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှ တည်ဆောက်သည့် တံတား (ကုမ္ပဏီမှ ကောက်ခံခြင်း) | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ရန်ကုန်-ပုသိမ် [ အေးရှားဝါး(လ်) ] | ဘုရင့်နောင် ၁၆၄၀′ | | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန် |
| | | ကျောင်းကုန်း ၆၀၀′ | | |
| | | အောင်ဇေယျ ၃၇၈၆′ | | စီမံကိန်းဝင်တံတားဖြစ်၍ စီမံကိန်း နှုန်းဖြင့် ကောက်ခံရန် |
| | | ရွှေပြည်သာ ၃၄၁၅′ | | |
| | | ဗိုလ်မြတ်ထွန်း ၈၅၄၄′ | | |
| | | ဒါးက ၁၄၀၀′ | | |
| | | မဲဇလီ ၂၀၀′ | | တံတား အသုံးပြုခ မကောက်ခံသည့် တံတားများ ဖြစ်ပါသည်။ |
| | | မဲဇလီရေထိန်း တံခါး ၂၄၀′ | | |
| | | လင်းလွန်းပင် ၁၈၀′ | | |
| | | အောက်စု ၁၈၀′ | | |
| | | ဗောခိ ၁၈၀′ | | |
| | | ကျုံ့ကနောင် ၂၄၀′ | | |
| | | ပသွယ် ၄၂၀′ | | |
| | | အင်းမ ၂၄၀′ | | |
| | | သဲကုန်း ၃၀၀′ | | |
| | | ၁/၈ ၂၂၀′ | | |
| | | (အပင် ၂၀ တံတား) | | |



Cab 4 BOT

| စဉ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှတည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှ တည်ဆောက် သည့် တံတား (ကုမ္ပဏီမှ ကောက်ခံခြင်း) | မှတ်ချက် |
|---|---|---|---|---|
| ၂။ | ပုသိမ် - ငွေဆောင် [အေးရှားဝါး(လ်)] | - | တွန်ပလွန် ၂၆၀'<br>သလပ်ခွါ ၃၆၀' | သာမန်တံတားနှုန်း ဖြင့် ကောက်ခံရန် |
| ၃။ | မြစ်ငယ်-ထုံးဘို-ပြင်ဦးလွင် [ အေးရှားဝါး(လ်) ] | - | - | |
| ၄။ | မိတ္ထီလာ-တောင်ကြီး (တောင်ပေါ်ဒေသ လမ်းဆောက်လုပ်ရေး). | စမုံ ၂၂၀'<br>(ပျော်ဘွယ်-ဘုရားငါးဆူ ဖြတ်လမ်း)<br>၁၆/၅ ၁၈၀'<br>(နှစ်လွှာတစ်ထပ် ဘေလီ)<br>၂၁/၄ ၂၀၄'<br>(နှစ်လွှာတစ်ထပ် ဘေလီ)<br>၄၃/၇ ၂၀၀'<br>(မြစ်သာချောင်းဖြတ် သံမှိုစွဲ တံတား) (ပြည်ညောင်) | - | တံတား အသုံးပြုခ မကောက်ခံသည့် တံတားများ ဖြစ်ပါသည်။ |

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရကာ- ၆ (ခ) /မ- လမ်း / ၂၀၀၉ (၁၉၂၈၇)၊

**BOT စနစ်ဖြင့် လမ်းများ ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက် ရန် အတွက် အဆိုပြုချက်(၄)ခု တင်ပြခြင်းကိစ္စ။**

**အကျဉ်းချုပ်** ။ ။ အောက်ပါ လမ်းအပိုင်း(၄)ပိုင်းတို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင် ခွင့်ပြုမိန့်ရရှိရေးအတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ရန်ကုန် - ပုသိမ် | ၁၁၃ မိုင် | ကျပ် ၂၉၅၈၉.၁၁ သန်း (US$ ၁၁.၁၈၅ သန်း အပါအဝင်) | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| ၂။ | ပုသိမ်-ငွေဆောင် | ၂၉ မိုင်၊ ၅ ဖာလုံ | ကျပ် ၇၀၉၃.၁၁ သန်း (US$ ၂.၇၇၂ သန်း အပါအဝင်) | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| ၃။ | မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင် | ၉ မိုင်၊ ၃ ဖာလုံ | ကျပ် ၂၇၆၀.၀၀ သန်း | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| ၄။ | မိတ္ထီလာ - တောင်ကြီး (ပျော်ဘွယ်- ဘုရားငါးဆူ၊ သာစည် - သပြေဝ လမ်း ပိုင်းများ အပါအဝင်) | ၁၄၀ မိုင်၊ ၅ ဖာလုံ | ကျပ် ၃၀၆၅၈.၉၉ သန်း (US$ ၅.၃၀ သန်း အပါအဝင်) | တောင်ပေါ်ဒေသလမ်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၄/ ၂၀၀၉) (၂၉-၇-၂၀၀၉) အစည်းအဝေး လမ်းညွှန်ချက် နှင့်အညီ အဆိုပြုလမ်းအပိုင်း (၄)ပိုင်းတွင် လမ်းအသုံးပြုခနှုန်း၊ တံတားဖြတ်သန်းခ ကောက်ခံသည့် စနစ်နှင့် လုပ်ငန်းတစ်ဆင့်ခံ လုပ်ကိုင်ခြင်း ကိစ္စများကို ပဋိညာဉ်စာချုပ် (မူကြမ်း) များတွင် ပြင်ဆင်တင်ပြထားပါသည်။ အဆိုပြုလမ်းအပိုင်းရှိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှတည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတားများအတွက် တံတားအသုံးပြုခ ကောက်ခံမှုများကို ကုမ္ပဏီများ သို့ လေလံစနစ်ဖြင့် ဆောင်ရွက်စေပြီး၊ ကုမ္ပဏီမှ တည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတား များအတွက် တံတားအသုံးပြုခများကို ကုမ္ပဏီမှ ကောက်ခံခြင်းစနစ်ဖြင့် ဆောင်ရွက်ပါသည်။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တည်ဆောက်ထားသည့် (၁၈၀)ပေ အထက် တံတားများ

မှာ ရန်ကုန် - ပုသိမ်လမ်းတွင် (၁၆)စင်း၊ မိတ္ထီလာ- တောင်ကြီးလမ်းတွင် (၄)စင်း၊ ပုသိမ် - ငွေဆောင် လမ်းအပိုင်းတွင် အေးရှားဝါး(လ်) ကုမ္ပဏီမှ တည်ဆောက်ထားသည့် တံတား (၂)စင်း ရှိပါသည်။

လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ) မှာ (၃)နှစ်ဖြစ်ပါသည်။ လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀)ဖြစ်ပြီး လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ်အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက် ကာလမှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

အဆိုပြု ကုမ္ပဏီများမှ အောက်ပါ လမ်းအသုံးပြုခနှုန်းများအတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း<br>တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

လမ်း၊ တံတား အသုံးပြုခရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရ မည် ဖြစ်ပါသည်။

(၁) ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် -------၂၀%ပေးသွင်းရန်

ယခုတင်ပြသည့် လမ်းအပိုင်း (၄)ပိုင်းအား လမ်းဖောက်လုပ်သည့် လုပ်ငန်း စတင် ဆောင်ရွက်ခွင့်ပြုသည့် နေ့မှာ (၁-၄-၂၀၀၈) ဖြစ်ပါသည်။

ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာသည့် အထက်ပါ လမ်းအပိုင်း (၄)ပိုင်းကို (၂၉-၉-၂၀၁၉) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၅/ ၂၀၁၉) အစည်းအဝေး၌ တင်ပြခဲ့ရာ ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

<u>ဆုံးဖြတ်ရန်အချက်</u>

ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာသည့် အောက်ပါလမ်းအပိုင်း (၄)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

| | | | |
|---|---|---|---|
| (က) | ရန်ကုန် - ပုသိမ် လမ်းအပိုင်း | (၁၀၃ မိုင်) | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| (ခ) | ပုသိမ် - ငွေဆောင် လမ်းအပိုင်း | (၂၉ မိုင်၊ ၅ ဖာလုံ) | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| (ဂ) | မြစ်ငယ် - ထုံးဘို - ပြင်ဦးလွင်လမ်းအပိုင်း | (၉ မိုင်၊ ၃ ဖာလုံ) | အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် |
| (ဃ) | မိတ္ထီလာ - တောင်ကြီး လမ်းအပိုင်း (ပျော်ဘွယ်- ဘုရားငါးဆူ၊ သာစည် - သပြေဝလမ်း ပိုင်းများ အပါအဝင်) | (၁၄၀ မိုင်၊၅ ဖာလုံ) | တောင်ပေါ်ဒေသလမ်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

ဥက္ကဋ္ဌသိသာပါရန်တင်ပြချက်

၁။ အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်မှ ရန်ကုန်- ပုသိမ်လမ်းမကြီးစီမံကိန်းတွင် အသုံးပြုရန် အတွက်ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော အမေရိကန်ဒေါ်လာ (၇.၃၆)သိန်း တန်ဖိုးရှိ စက်ယန္တရား များ (Brand New) (၁၄) စီး ကို လမ်းများ အမြန်ဆုံး ပြင်ဆင် နိုင်ရန် လိုအပ်ခြင်းကြောင့် Green Luck Trading Co., Ltd. အမည်ဖြင့် ကြိုတင် တင်သွင်း ခွင့်ကို ကော်မရှင်၏ (၃၄/၂၀၀၈) (၆-၁၁-၂၀၀၈) အစည်းအဝေး မှ ခွင့်ပြုခဲ့ပါသည်။

၂။ ပုသိမ်-ငွေဆောင်လမ်းအပိုင်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏတွင် စက်ပစ္စည်းကိရိယာများ US$ (၀.၉၇၇)သန်း နှင့် ကုန်ကြမ်း ပစ္စည်းများ တန်ဖိုး US$ (၁.၇၉၅)သန်း ပါဝင်ပါသည်။ စက်ပစ္စည်းကိရိယာများ US$ (၀.၉၇၇)သန်းနှင့် ကုန်ကြမ်း ပစ္စည်း US$ (၀.၅၄၈) သန်း ဖိုးတို့ကို ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁/၂၀၀၁) (၁-၂-၂၀၀၁) အစည်းအဝေးမှ ခွင့်ပြုချက် အရ Deferred Payment ဖြင့် တင်သွင်း အသုံးပြုခဲ့ပြီး ဖြစ်ပါ ကြောင်း ဖော်ပြထား ပါသည်။ ကျန်ကုန်ကြမ်းပစ္စည်း US$ (၁.၂၄၇)သန်းဖိုးကို Normal စနစ်ဖြင့် တင်သွင်းမည် ဖြစ်ပါကြောင်း တင်ပြ ထားပါ သည်။

၃။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် မှ မိတ္ထီလာ - တောင်ကြီး လမ်းအပိုင်းတွင် အသုံးပြုရန် လိုအပ်သော Bitumen (ကတ္တရာစေး) 5000 Ton တန်ဖိုး US$ (၂.၆)သန်းနှင့် လုပ်ငန်းသုံးစက်၊ ယာဉ်၊ ယန္တရားနှင့် လုပ်ငန်းသုံးပစ္စည်းမျိုးစုံ (၇၂)ယူနစ် တန်ဖိုး US$ (၂.၆၉၈)သန်း (စုစုပေါင်းတန်ဖိုး၊ US$ (၅.၂၉၈) သန်း) တို့အား ကြိုတင် တင်သွင်းခွင့်ကို ကော်မရှင်၏ (၄၀/ ၂၀၀၈) (၂၄-၁၂-၂၀၀၈) အစည်းအဝေးမှ ခွင့်ပြုခဲ့ ပါသည်။ အဆိုပါ ပစ္စည်းများ တန်ဖိုးကို ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာတွင် ထည့်သွင်း ဖော်ပြ ထားပါသည်။

၄။ ရန်ကုန်-ပုသိမ်လမ်းနှင့် မိတ္ထီလာ-တောင်ကြီးလမ်းအပိုင်းတို့တွင် အဆိုပြုလွှာ တင်ပြခြင်းနှင့်ပစ္စည်းသွင်းခွင့် ရရှိခဲ့သည့် ကုမ္ပဏီအမည်များကို အောက်ပါအတိုင်း စိစစ် တင်ပြအပ်ပါသည်။

| လမ်းအပိုင်း | အဆိုပြုလွှာတင်ပြသည့် ကုမ္ပဏီအမည် | ပစ္စည်းကြိုတင်သွင်းခွင့် ရရှိခဲ့သည့် ကုမ္ပဏီအမည် |
|---|---|---|
| - ရန်ကုန်-ပုသိမ် | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | Green Luck Trading Co., Ltd. |
| - မိတ္ထီလာ-တောင်ကြီး | တောင်ပေါ်ဒေသလမ်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | သော်တာဝင်းဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |

၅။ ပစ္စည်းကြိုတင်သွင်းခွင့်ရရှိခဲ့သည့် ကုမ္ပဏီများသည် အဆိုပြုလွှာ တင်ပြလာသည့် ကုမ္ပဏီများမှ သီးခြား ဖွဲ့စည်းထားသည့် မိသားစု ကုမ္ပဏီများ ဖြစ်ကြပါသည်။

၆။ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကော်မရှင်သို့ တင်ပြခွင့်ပြုချက် ရယူခဲ့သည့် BOT လမ်း လုပ်ငန်းများကို အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်။

**အရေအတွက်(ခု)**

| | | |
|---|---|---|
| (၁) ကော်မရှင်ခွင့်ပြုမိန့်ထုတ်ပေးပြီးလုပ်ငန်း | ၈ | (နောက်ဆက်တွဲ-၁) |
| (၂) ကော်မရှင်ခွင့်ပြုမိန့်ထုတ်ပေးရန် | ၈ | (နောက်ဆက်တွဲ-၂) |
| (၃) အစိုးရအဖွဲ့သို့တင်ပြရန် | ၄ | (နောက်ဆက်တွဲ-၃) |
| (၄) ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြထားသည့် လုပ်ငန်း | ၄ | (နောက်ဆက်တွဲ-၄) |
| (၅) ကော်မရှင်အစည်းအဝေးတွင်တင်ပြထားသည့် လုပ်ငန်း | ၃ | (နောက်ဆက်တွဲ-၅) |
| (၆) ကော်မရှင်အစည်းအဝေးသို့ တင်ပြရန် စိစစ်နေသည့် လုပ်ငန်း | ၃ | (နောက်ဆက်တွဲ-၆) |
| စုစုပေါင်း | ၃၀ | |

နောက်ဆက်တွဲ (၁)

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပြီးသည့် BOT စနစ်ဖြင့် လုပ်ကိုင်သည့် လမ်းလုပ်ငန်းများ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | လမ်းအပိုင်း | ခွင့်ပြုမိန့် အမှတ် | B.O.T လုပ်ငန်း သက်တမ်း |
|---|---|---|---|---|---|
| ၁။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ မန္တလေး - ပြင်ဦးလွင်- ဝက်ဝံ - နောင်ချို လမ်းမကြီး ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံသည့် လုပ်ငန်း | မိုင်တိုင်အမှတ် (၈/ ၁) မှ (၇၉/ ၀) အထိ (၇၁)မိုင် | မနသ - ၅၃၄ (၁၂-၂-၀၂) | (၃၀)နှစ်နှင့် နောက်ထပ် (၅)နှစ် (၃) ကြိမ် တိုးမြှင့်ခွင့် |
| ၂။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | နောင်ချို - လားရှိုးလမ်းအား တည်ဆောက်ပြုပြင်ဖောက်လုပ် ၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း | မိုင်တိုင်အမှတ် (၇၉/ ၀) မှ (၁၂၃/ ၀) အထိ (၄၄)မိုင် | မနသ - ၁၅၂ (၁၅-၇-၉၈) | (၃၀)နှစ်နှင့် (၅)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့် |
| ၃။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | ကျောက်မဲ -လားရှိုး လမ်းအပိုင်းကို ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံ ခြင်း လုပ်ငန်း | မိုင်တိုင်အမှတ် (၁၂၃/ ၀) မှ (၁၇၂/ ၀) အထိ (၄၉)မိုင် | မနသ - ၆၉၂ (၁၈-၉-၀၈) | (၃၀)နှစ် |
| ၄။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | လားရှိုး - မူဆယ် ကားလမ်းအား ပြုပြင်ဖောက်လုပ်တည်ဆောက် ၍ လမ်းအသုံးပြုခ ကောက်ခံ ခြင်း လုပ်ငန်း | မိုင်တိုင်အမှတ် (၁၇၂/ ၀) မှ (၂၇၄/ ၃) အထိ (၁၀၂)မိုင် (၃)ဖာလုံ | မနသ - ၀၃၅ (၂၂-၇-၉၆) | (၃၀)နှစ်နှင့် နောက်ထပ် (၅)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့် |
| ၅။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | လားရှိုး - မူဆယ် ပြည်ထောင်စု လမ်းမကြီး၏ ဆက်စပ်လမ်း အပိုင်းများ ဖြစ်သော မိုင်းယု - ကြူကုတ်၊ မိုင်းယု - မူဆယ်နှင့် မူဆယ် - နမ့်ခမ်း လမ်း အပိုင်း တို့ ကို ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခများ ကောက်ခံ ခြင်းလုပ်ငန်း | လားရှိုး - မူဆယ် ဆက်စပ် လမ်း မိုင်တိုင် (၀/ ၀) မှ (၁၂/ ၀) ထိ၊ ကြူကုတ် လမ်း၊ (၁၂)မိုင်၊ မိုင်တိုင် (၁၇၄/၃) မှ (၂၈၄/၃)ထိ၊ မူဆယ်လမ်း အပိုင်း (၁၀) မိုင်၊ မိုင်တိုင် (၂၈၄/ ၃) မှ (၃၀၆/၃)ထိ၊ နမ့်ခမ်းလမ်း အပိုင်း (၂၂)မိုင် (၄၄)မိုင်(၃)ဖာလုံ | မနသ - ၃၆၇ (၂၀-၄-၀၀) | (၃၀)နှစ်နှင့် နောက်ထပ် (၅)နှစ် (၃)ကြိမ် တိုးမြှင့်ခွင့် |

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ
ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပြီးသည့် BOT စနစ်ဖြင့်
လုပ်ကိုင်သည့် လမ်းလုပ်ငန်းများ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | လမ်းအပိုင်း | ခွင့်ပြုမိန့်အမှတ် | B.O.T လုပ်ငန်း သက်တမ်း |
|---|---|---|---|---|---|
| ၆။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | သိန္နီ၊ ကွမ်းလုံ - ချင်းရွှေဟော် လမ်းအပိုင်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခများ ကောက်ခံခြင်း လုပ်ငန်း | (၆၆)မိုင် | မနသ - ၂၅၃ (၂၀-၅-၉၉) | (၃၀)နှစ်နှင့် နောက်ထပ် (၅)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့် |
| ၇။ | ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ကျိုင်းတုံ- တာချီလိတ်ကားလမ်း အားတည်ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်း လုပ်ငန်း | ကျိုင်းတုံ - တာချီလိတ် လမ်းအပိုင်း၊ မိုင်တိုင် (၃၉၇/ ၄) မှ (၄၉၉/၆) အထိ<br>(၁၀၂)မိုင် (၂)ဖာလုံ | မနသ - ၄၀၂ (၁၂-၇-၀၀) | (၃၀)နှစ် နှင့် နောက်ထပ် (၅)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့် |
| ၈။ | ရွှေသံလွင် အဝေးပြေး လမ်းမကြီး ကုမ္ပဏီလီမိတက် | ရန်ကုန် - မြိတ် ပြည်ထောင်စု လမ်းမကြီး၏ ဘုရားကြီး - ကျိုက်ထိုလမ်းအပိုင်း အဆင့်မြင့် တိုးမြှင့် ဖောက်လုပ်၍ လမ်း အသုံးပြုခကောက်ခံခြင်း လုပ်ငန်း | မိုင်တိုင်အမှတ် (၆၀/ ၄) မှ (၁၁၆/၇)ထိ၊<br>(၅၆)မိုင် (၃)ဖာလုံ | မနသ - ၆၆၈ (၂၈-၅-၀၆) | (၄၀)နှစ် [ ကော်မရှင်၏ (၃၆/၂၀၀၉) (၆-၁၀-၂၀၀၉) အစည်းအဝေးမှ ယခင် နှစ်(၃၀)အား နှစ်(၄၀)ဖြင့် ပြင်ဆင်ခွင့်ပြုခဲ့ပါသည်။ ] |

နောက်ဆက်တွဲ (၂)

## ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးရန် လမ်းအပိုင်းများ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းတည်နေရာ | လမ်းအရှည်မိုင် | မှတ်ချက် |
| --- | --- | --- | --- | --- |
| ၁။ | မက်(စ်)မြန်မာ ကုမ္ပဏီလီမိတက် | ထောက်ကြံ့ - ပဲခူး | ၃၂ မိုင်၊ ၆ ဖာလုံ | ၃-၁၁-၂၀၀၉ နေ့ ခွင့်ပြုမိန့် ထုတ်ပေးမည်။ |
| ၂။ | ရွှေသံလွင် အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် | ပဲခူး - ညောင်လေးပင် | ၄၈ မိုင် | |
| ၃။ | ဟိုက်စတား ကုမ္ပဏီလီမိတက် | ညောင်လေးပင်- ဇေယျာဝတီ | ၄၈ မိုင် | |
| ၄။ | ကမ္ဘောဇ လမ်းကြောင်းရှာဖွေရေး စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် | ဇေယျာဝတီ - ရေတာရှည် | ၄၈ မိုင် | |
| ၅။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | ရေတာရှည် - ပျဉ်းမနား | ၃၉ မိုင်၊ ၅.၅ ဖာလုံ | |
| ၆။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | ပျဉ်းမနား - ရမည်းသင်း | ၄၅ မိုင်၊ ၄.၅ ဖာလုံ | |
| ၇။ | ယုဇနဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ရမည်းသင်း - မိတ္ထီလာ | ၄၈ မိုင် | |
| ၈။ | သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မိတ္ထီလာ - မန္တလေး | ၈၇ မိုင်၊ ၇ ဖာလုံ | |

